**ကုမ္ပဏီအမည် - Myanmar Belle Shin -Shin Foods Co., Ltd.**
**လုပ်ငန်း - အခြောက်ခံသည့်အသီးအရွက်ထုတ်လုပ်ခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂-၂-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၃-၂-၂၀၁၅ | ၂၀-၂-၂၀၁၅ | |
| | (ခ) ကျန်းမာရေးဝန်ကြီးဌာန (ပထမအကြိမ်) | ၁၄-၂-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၁၀-၂-၂၀၁၅ | ၁၃-၃-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၄-၂-၂၀၁၅ | ၂၅-၂-၂၀၁၅ | |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | | | |
| | (ပထမအကြိမ်) | ၁၄-၂-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၁၀-၃-၂၀၁၅ | ၁၁-၃-၂၀၁၅ | |
| | (င) ရှမ်းပြည်နယ်အစိုးရအဖွဲ့ (ပထမအကြိမ်) | ၁၄-၂-၂၀၁၅ | | |
| | ရှမ်းပြည်နယ်အစိုးရအဖွဲ့ (ဒုတိယအကြိမ်) | ၁၀-၃-၂၀၁၅ | ၂၉-၄-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၆/၂၀၁၅) သို့ တင်ပြခြင်း | ၉-၂-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၈-၂-၂၀၁၅ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၃/၂၀၁၅) သို့ တင်ပြခြင်း | ၂၇-၂-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး(၇/၂၀၁၅)သို့တင်ပြခြင်း | ၂-၄-၂၀၁၅ | | |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၅ | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့၏ (၈/၂၀၁၅)သို့တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | ၉-၄-၂၀၁၅ | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | ၂၄-၃-၂၀၁၅ | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | **(၈၇) ရက်** | | |

ကုမ္ပဏီအမည် - Myanmar Belle Shin -Shin Foods Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဌာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - အခြောက်ခံသည့်အသီးအရွက်ထုတ်လုပ်ခြင်းလုပ်ငန်း

တည်နေရာ - ဦးပိုင်အမှတ်- ၁၁၈၊ မြေကွက်အမှတ် (၁၇၈ + ၁၇၅/၁၃၅၉)၊ ကွင်းအမှတ် ၁/ဟဲဟိုးချိုင့်ဝှမ်း၊ ဟဲဟိုးမြို့၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ် (တောင်ပိုင်း)ရှိ မြေ ၉.၄၈ ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၇.၀၀ သန်း

လုပ်ငန်းသက်တမ်း - (၃၀) နှစ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | - |
| ၄ | ဝင်ငွေခွန် | ၁၂၀၂.၇၀ | ၂၅၇၉.၂၅ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၉၅.၇၆ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း ( ၅၇ )ဦး |
| ၈ | CSR (၂%) | | ၁၇၈.၈၄ |
| ၉ | မြေငှားရမ်းခ | | ၂၁၈.၆၇ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၅၀ ဦး အလုပ် |

| | | | |
|---|---|---|---|
| | စုစုပေါင်း | ၁၂၀၄.၃၈ | အကိုင်ရရှိမည် ဖြစ်ပါသည်။<br>၃၀၇၃.၆၉ |
| ၁၁ | Cost : Benefit | ၁ : ၃ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်Myanmar Belle Shin -Shin Foods Co., Ltd. မှ အခြောက်ခံသည့် အသီးအရွက် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar Belle Shin -Shin Foods Co., Ltd. |
| | ကမကထပြုသူ | - ဦးရဲမြင့်မောင် (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Myanmar Belle Manufacturing Co., Ltd. (၇၀%) (မြန်မာနိုင်ငံ) |
| | | - Shin-Shin Foods Co., Ltd. (၃၀%) (ဂျပန်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - အခြောက်ခံသည့် အသီးအရွက် ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- ၁၁၈၊ မြေကွက်အမှတ် (၁၇၈ + ၁၇၅/ ၁၃၅၉)၊ ကွင်းအမှတ် ၁/ဟဲဟိုးချိုင့်ဝှမ်း၊ ဟဲဟိုးမြို့၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ် (တောင်ပိုင်း) |
| | မြေပိုင်ရှင် | - Myanmar Belle Co., Ltd. |
| | မြေအကျယ်အဝန်း | - ၉.၄၈ ဧက (၃၈၃၆၄.၂၃၂၈ စတုရန်းမီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ USD ၂၃၀၁၈ (တစ်စတုရန်းမီတာလျှင်US$ ၀.၆ ) |
| | မြေငှားရမ်းကာလ | - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး (၁၅)နှစ် (၂) ကြိမ် |
| | လုပ်ငန်းသက်တမ်း | - (၃၀) နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - (၁) နှစ် |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US$ ၇.၀၀ သန်း |

| | US $ (သန်း) | | |
|---|---|---|---|
| | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း (US$) |
| ငွေသား | ၁.၅၀ | - | ၁.၅၀ |
| စက်ပစ္စည်းများ | ၀.၅၀ | ၁.၁၉ | ၁.၆၉ |
| အဆောက်အဦများ/ မြေငှားရမ်းခ | - | ၃.၆၃ | ၃.၆၃ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | - | ၀.၀၈ | ၀.၀၈ |
| ကုန်ကြမ်း | ၀.၁၀ | | ၀.၁၀ |
| **စုစုပေါင်း** | **၂.၁၀** | **၄.၉၀** | **၇.၀၀** |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | -ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကို တင်ပြထားပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - ၁၉၂ ဦး |
| | ပြည်တွင်း | - ၁၈၉ ဦး |
| | ပြည်ပ | - ၃ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ မှာ US$ ၁,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။) |

| | | |
|---|---|---|
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US $ ၅.၅၈ သန်း |
| | အသုံးစရိတ် | - US $ ၄.၇၁ သန်း |
| | အသားတင်အမြတ် | - US $ ၀.၈၇ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်(ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US$ ၀.၂၉ သန်း |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) | - ၈၀,၀၀၀ kWh |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမ မြောက်နှစ်) | |

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (USD/ Kg) |
|---|---|---|
| Dry Cabbage (Green & Yellow) | ၁,၀၀၀,၀၀၀ | ၄.၈၀ |
| Dehydrated & Seasoned Radish Leaf | ၁၉၆,၀၀၀ | ၄.၀၀ |

| | | |
|---|---|---|
| ၁၃။ | စိစစ်တွေ့ရှိချက် | -မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၄ ရက်စွဲပါစာဖြင့် Myanmar Belle Manufacturing Co., Ltd. အား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ပြောင်းလဲ ဆောင်ရွက်ခွင့် ပြုကြောင်း ကုမ္ပဏီသို့ ကြောင်းကြားစာအား တင်ပြထားပါ သည်။ |

| | | |
|---|---|---|
| | | - နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ခွင့်ပြုမိန့် ရရှိပါက မြန်မာနိုင်ငံသားခွင့်ပြုမိန့်အားပြန်လည်အပ်နှံရမည်ဖြစ်ပါသည်။<br>- Myanmar Belle Manufacturing Co., Ltd. အမည်ဖြင့် မှတ်ပုံ တင်ထားသော မြန်မာကုမ္ပဏီအား ရှယ်ယာလွှဲပြောင်း၍ နိုင်ငံခြား ကုမ္ပဏီသို့ ပြောင်းလဲ မှတ်ပုံတင်ရမည် ဖြစ်ပါသည်။<br>- Myanmar Belle Manufacturing Co., Ltd.သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် အမှတ် မနသ ၈၁၃/၂၀၁၁ ဖြင့် ဆောင်ရွက်ခဲ့သော လုပ်ငန်းဖြစ်ပြီး စီးပွား ဖြစ်စတင်သည့် နေ့မှာ (၂၈-၉-၂၀၁၂) ဖြစ်သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ (၃) နှစ်နှင့် (၈) လ ခံစားခဲ့ပြီးဖြစ်ပါသည်။ |

ကန့်သတ်

၉

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ န-၁၁၉ /၂၀၁၅ ( ၃၂၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လျက်ရှိသော Myanmar Belle Manufacturing Co., Ltd. မှ အခြောက်ခံသည့် အသီးအရွက် ထုတ်လုပ်ခြင်း လုပ်ငန်းကို ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Belle Shin -Shin Foods Co., Ltd. တည်ထောင်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပြောင်းလဲ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Myanmar Belle Manufacturing Co., Ltd. မှ ၇၀% နှင့် ဂျပန်နိုင်ငံ၊ Shin-Shin Foods Co., Ltd. မှ ၃၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar Belle Shin-Shin Foods Co., Ltd. တည်ထောင်၍ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဟဲဟိုးမြို့၊ ကွင်းအမှတ် ၁/ဟဲဟိုးချိုင့်ဝှမ်း၊ မြေကွက်အမှတ် (၁၇၈+၁၇၅/၁၃၅၉)၊ ဦးပိုင်အမှတ် ၁၁၈ ရှိ မြေ ၉.၄၈ ဧက ငှားရမ်း၍ အခြောက်ခံသည့် အသီးအရွက် ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Myanmar Belle Manufacturing Co., Ltd နှင့် Myanmar Belle Shin-Shin Foods Co., Ltd. တို့ကြား ချုပ်ဆိုမည့် မြေငှား ရမ်းစာချုပ် (မူကြမ်း)၊ Myanmar Belle Co., Ltd နှင့် Myanmar Belle Shin-Shin Foods Co., Ltd. တို့အကြား ချုပ်ဆိုမည့် Agreement Concerning Joint Venture Company၊ မြေ အထောက်အထားများနှင့် အဆောက်အဦဓာတ်ပုံ တို့ကို တင်ပြထား ပါသည်။

ကန့်သတ်

၃။ လုပ်ငန်း ဆောင်ရွက်မည့် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဟဲဟိုးမြို့၊ ကွင်းအမှတ် ၁/ဟဲဟိုးချိုင့်ဝှမ်း၊ မြေကွက်အမှတ် (၁၇၈ + ၁၇၅/၁၃၅၉)၊ ဦးပိုင် အမှတ် ၁၁၈ ရှိ မြေဧရိယာ(၉.၄၈)ဧက (၃၈၃၆၄.၂၃၂၈ စတုရန်းမီတာ)အား တစ်စတုရန်း မီတာလျှင် အမေရိကန်ဒေါ်လာ ၀.၆ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခ အမေရိကန်ဒေါ်လာ ၂၃၀၁၈.၀၀ ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁.၅၀ | - | ၁.၅၀ |
| စက်ပစ္စည်းများ | ၀.၅၀ | ၁.၁၉ | ၁.၆၉ |
| အဆောက်အဦများ/ မြေငှားရမ်းခ | - | ၃.၆၃ | ၃.၆၃ |
| ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | - | ၀.၀၈ | ၀.၀၈ |
| ကုန်ကြမ်း | ၀.၁၀ | | ၀.၁၀ |
| စုစုပေါင်း | ၂.၁၀ | ၄.၉၀ | ၇.၀၀ |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် အခြောက်ခံသည့် အသီးအရွက် ထုတ်လုပ်ရာတွင် ပြည်တွင်း ဝန်ထမ်း (၁၈၉)ဦး နှင့် ပြည်ပ (၃)ဦး ခန့်ထားမည်ဖြစ်ပါသည်။ (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ မှာ US$ ၁,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။)

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော အခြောက်ခံသည့် အသီးအရွက်များကို ပြည်ပ ၁၀၀% တင်ပို့ ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (USD/ Kg) |
|---|---|---|
| Dry Cabbage (Green & Yellow) | ၁,၀၀၀,၀၀၀ | ၄.၈၀ |
| Dehydrated & Seasoned Radish Leaf | ၁၉၆,၀၀၀ | ၄.၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - - | US $ ၅.၅၈ သန်း |
| (ခ) | အသုံးစရိတ် | - - | US $ ၄.၇၁ သန်း |
| (ဂ) | အသားတင်အမြတ် | - - | US $ ၀.၈၇ သန်း |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၂၈သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၅၀ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရှမ်းပြည်နယ် အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နေရာပြုလုပ်မည့်(သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ အဆိုပါမြေနေရာ သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ မှန်ကန်ကြောင်းကို ခရိုင်အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာန၊ တောင်ကြီးမြို့၏ (၆-၄၂၀၁၅) ရက်စွဲပါ

စာအမှတ်၊ ၅/၇၆-၁/ဦး၆ ဖြင့် ထောက်ခံ တင်ပြထားပါကြောင်း၊ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့အနေဖြင့် ၂၃-၄-၂၀၁၅ ကျင်းပပြုလုပ်သော ရှမ်းပြည်နယ်အစိုးရအဖွဲ့ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်း အစည်းအဝေး အမှတ်စဉ်(၂-၄/၂၀၁၅)ဆုံးဖြတ်ချက် အပိုဒ်၅(၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အခြောက်ခံသည့် အသီးအရွက်ထုတ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း စီမံကိန်းရေးဆွဲ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)အား အမြတ်ငွေ၏ ၂% ထည့်ဝင်ရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်သွားရန်၊ အဆိုပါ လုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအမံများ၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးအစီအမံများ၊ စောင့်ကြည့်လေ့လာမည့် အစီအမံများ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan –EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စည်းမျဉ်းစည်း ကမ်းများနှင့်အညီ လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်။

[**ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်**

Environmental Management Plan (EMP) **အစီရင်ခံစာအား တင်ပြထားပါသည်။]** **(နောက်ဆက်တွဲ-ခ)**

(ဂ) **ကျန်းမာရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ - ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများ ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန်၊ ထုတ်ကုန်ပစ္စည်းများတွင် ပိုးသတ်ဆေးနှင့် ဓါတ်မြေဩဇာ အကြွင်းအကျန်များ မပါရှိစေရေး အထူးဂရုပြု ဆောင်ရွက်ရန်၊ ကုန်ကြမ်း ပစ္စည်းများတွင် ပမာဏ ဖော်ပြထားခြင်းမရှိဘဲ တန်ဖိုးသာဖော်ပြထားသဖြင့် သုံးစွဲမည့်ကုန်ကြမ်း ပမာဏအား ထည့်သွင်းတင်ပြရန်နှင့် ယင်းတန်ဖိုး၌ အလုပ်သမားစရိတ်များ၊ လျှပ်စစ်ဓါတ်အားခများ၊ သယ်ယူပို့ဆောင်ခများပါ ထည့်သွင်းထားသဖြင့် ကုန်ကြမ်းတန်ဖိုးနှင့် အဆိုပါဝန်ဆောင်စရိတ်များကို သီးခြားစီတင်ပြရန်၊ စက်ပစ္စည်းစာရင်းတင်ပြချက်တွင် အဓိကစက်ပစ္စည်းများ၏ Capacityများ ထည့်သွင်းဖော်ပြရန် သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဂျပန်နိုင်ငံမှ Shin-Shin Foods. Co., Ltd. အမည်ဖြင့် The Gunma Bank, Ltd. တွင် ၂၁-၈-၂၀၁၄ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၂.၇၀ သန်းရှိကြောင်း နှင့် မြန်မာနိုင်ငံမှ Myanmar Belle Manufacturing Co., Ltd. အမည်ဖြင့် ရင်းနှီးမြှုပ်နှံမှုနှင့် ကူသန်းရောင်းဝယ်ရေးဘဏ်တွင် ၁-၄-၂၀၁၅ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၀.၃၅ သန်း ရှိကြောင်း တင်ပြထားပါသည်။ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Myanmar Belle Shin -Shin Foods Co., Ltd. မှ တည်နေရာပြမြေပုံ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သန့်ရှင်း သာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့်

လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှုအစီအစဉ်များ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက် ထားရှိမည့် ရပ်ရွာအကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ်နှစ်စဉ် ရရှိသော အမြတ်ငွေမှ ၂% ကိုသုံးစွဲမည် ဖြစ်ကြောင်း ကတိဝန်ခံချက်တို့ကို တင်ပြ ထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၆/၂၀၁၅ (၉-၂-၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ စိစစ်တင်ပြချက်

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ခွင့်ပြုမိန့်ရရှိပါက မြန်မာနိုင်ငံသား ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံရမည်ဖြစ်ပါသည်။

(ခ) Myanmar Belle Manufacturing Co., Ltd. အမည်ဖြင့် မှတ်ပုံတင်ထားသော မြန်မာကုမ္ပဏီအား ရှယ်ယာလွှဲပြောင်း၍ နိုင်ငံခြား ကုမ္ပဏီသို့ ပြောင်းလဲ မှတ်ပုံတင်ရမည် ဖြစ်ပါသည်။

(ဂ) Myanmar Belle Manufacturing Co., Ltd.သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် အမှတ် မနသ ၈၁၃/၂၀၁၁ ဖြင့် ဆောင်ရွက်ခဲ့သော လုပ်ငန်းဖြစ်ပြီး စီးပွားဖြစ်စတင်သည့် နေ့မှာ (၂၈-၉-၂၀၁၂) ဖြစ်သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ (၃) နှစ် နှင့် (၈)လ ခံစားခဲ့ပြီးဖြစ်ပါသည်။

(ဃ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့် ပြုရန် ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြ ထားပြီး စီးပွားရေးရာ ကော်မတီ ၏ ၇/၂၀၁၅ ကြိမ်မြောက်အစည်းအဝေးသို့ လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး များသို့ ဆက်လက် တင်ပြထားပါသည်။

(င) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Belle Shin-Shin Foods Co., Ltd. တည်ထောင်၍ အခြောက်ခံသည့် အသီးအရွက် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ